ကုမ္ပဏီအမည် - Golden Cashew Company Limited

လုပ်ငန်း - သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၆-၁၂-၂၀၁၆ | | |
| ၂ | PAT တင်ပြခြင်း(၁/၂၀၁၇) | ၂-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၆-၁-၂၀၁၇ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၆-၁-၂၀၁၇ | | |
| ၅ | PAT ဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၃-၁-၂၀၁၇ | | |
| ၆ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး | ၈-၂-၂၀၁၇ | ၂၀-၂-၂၀၁၇ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၇-၂-၂၀၁၇ | ၁၅-၂-၂၀၁၇ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၈-၂-၂၀၁၇ | ၂၃-၂-၂၀၁၇ | |
| ၇ | ကုမ္ပဏီမှ အဆိုပြုချက် အစုံ(၁၀) ပေးပို့ခြင်း | - | | |
| ၈ | ကော်မရှင်အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | - | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၁၀၅ ရက် | | |

ကုမ္ပဏီအမည် - Golden Cashew Company Limited
အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း-၅၊ မြေကွက်အမှတ်-(၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆)
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၈၂၄.၃၈၃ သန်း
(အမေရိကန်ဒေါ်လာကျပ် ၀.၃၉ သန်းအပါအဝင်)
လုပ်ငန်းသက်တမ်း - ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ်
အရင်းကြေကာလ - ၇ နှစ်နှင့် ၁ လ
IRR - ၂၃.၅၂ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၆၇ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂၃.၇၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၁၂.၆၇ သန်း | ကျပ် ၉၃၉.၀၅ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃.၄ သန်း |
| ၇ | CSR (၂ %) | | ကျပ် ၁၇.၀၂ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၄၆ ဦး<br>ပြည်တွင်းလုပ်သား ( ၁၄၆ ) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၂၃၈.၅၃ သန်း | ကျပ် ၉၆၀.၁၄ သန်း |
| | Cost & Benefit | ၁ : ၄ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Cashew Company Limited မှ သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Golden Cashew Company Limited |
| | ကမကထပြုသူ | - ဒေါ်နှင်းဝေစိုး (ဒါရိုက်တာ) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အပိုင်း-၅၊ မြေကွက်အမှတ်-(၄၃၃၊၄၃၄၊ ၄၃၅၊ ၄၃၆) အတွင်းရှိ မြေဧရိယာ(၁.၃၃၀)ဧကကို ငှားရမ်း၍ |
| ၃။ | မြေအကျယ်အဝန်း | - မြေဧရိယာ(၁.၃၃၀) ဧက (၁၃၃၅.၄၆၃၈ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - ဦးအီစိန်(ခ) စိုးမောင် နှင့် ဒေါ်ကျင်စန်း |
| ၄။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၈၂၄.၃၈၃ သန်း (အမေရိကန်ဒေါ်လာ ၀.၃၉၅ သန်း အပါအဝင်) |
| | | ကျပ်(သန်း) |
| | ငွေပမာဏ | ၁.၀၄၅ |
| | စက်ပစ္စည်း(ပြည်ပဝယ်) | ၄၇၄.၀၀၀ (အမေရိကန်ဒေါ်လာ ၀.၃၉၅ သန်း အပါ အဝင်) |
| | စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၄၅.၀၈၈ |
| | အဆောက်အဦနှင့် မြေ | ၃၀၀.၀၀၀ |
| | ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | ၄.၂၅၀ |
| | **စုစုပေါင်း** | ၈၂၄.၃၈၃ (အမေရိကန်ဒေါ်လာ ၀.၃၉၅ သန်း အပါ အဝင်) |
| ၆။ | ဝန်ထမ်းအင်အား | - ၁၄၆ ဦး |
| | ပြည်တွင်း | - ၁၄၆ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၁၀,၀၀၀ ကျပ်နှင့်အမြင့်ဆုံးလစာ ၃၀၀,၀၀၀ ကျပ်) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်ပတင်ပို့ |

နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်(၆)နှစ်မြောက် (၁၀၀% ပြည်ပတင်ပို့)

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Ton) | ရောင်းဈေးနှုန်း ( US$/ Ton) |
|---|---|---|---|
| ၁။ | White Whole 240 | ၃၈ | ၂၂.၀၀ |
| ၂။ | White Whole 320 | ၄၃ | ၂၁.၅၀ |
| ၃။ | White Whole 450 | ၃၈ | ၂၀.၈၀ |
| ၄။ | White Split | ၃၈ | ၁၇.၈၀ |
| ၅။ | Large White Piece | ၁၉ | ၁၆.၈၀ |
| ၆။ | Whole Cashew with Skin | ၁၃ | ၂၂.၀၀ |
| ၇။ | Roasted Salted Cashew With Skin | ၁၆ | ၂၃.၀၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(၆နှစ်မြောက်) | - ကျပ် ၅,၀၈၇.၄၀၈ သန်း |
| | ကုမ္ပဏီ၏အသုံးစရိတ် | - ကျပ် ၄,၇၈၂.၁၆၄ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (၆နှစ်မြောက်) | - ကျပ် ၃၀၅.၂၄၄ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၁၀၁.၇၅ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၂၃.၅၂ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၁၅၀,၀၀၀ kWh |
| ၁၁။ | အခြားတင်ပြချက် | - Golden Cashew Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်၊ MOA, AOA (မိတ္တူ)များ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- စက်ရုံ၏ တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြ ထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Waste Water Treatment Plant ၏ အစီရင်ခံစာ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၂။ | စိစစ်တင်ပြချက် | - မြန်မာနိုင်ငံရှိ ဧရာဝတီဘဏ်တွင် ဒေါ်နှင်းဝေစိုး(ဒါရိုက်တာ) အမည်ဖြင့် (၁၁-၅-၂၀၁၇) ရက်နေ့ ရက်စွဲဖြင့် ကျပ် ၂၀,၀၆၈,၀၈၅.၂၄ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$ = 1200 MMK ဖြင့် ဖော်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးအိစိန်(ခ) စိုးမောင် နှင့် ဒေါ်ကျင်စန်း အမည်ဖြင့် ရရှိထားသော မြေငှားစာချုပ်ကိုလည်း တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက - ၂/ မ- ၂၄၈/ ၂၀၁၇ ( ၃၈၅ )
ရက်စွဲ ၊ ၂၀၁၇ ခုနှစ် မေလ ၁၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Cashew Company Limited မှ သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ Golden Cashew Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ် (အပိုင်း-၅)၊ မြေကွက်အမှတ် (၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆)အတွင်းရှိ မြေဧရိယာ(၀.၃၃၀)ဧကကို ငှားရမ်း၍ သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၀.၃၃၀ဧက (၁၃၃၅.၄၆၃၈ စတုရန်းမီတာ) ဖြစ်ပြီး ရင်းမြေကို ဒါရိုက်တာ ဦးအီစိန်(ခ) စိုးမောင် နှင့် ဒေါ်ကျင်စန်းတို့က ပိုင်ဆိုင်သည့် အထောက်အထားကိုလည်း တင်ပြထားပါသည်။

၃။ တည်ဆောက်ရေးကာလ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၀.၃၉ သန်းအပါအဝင်ကျပ် ၈၂၄.၃၈၃ သန်းဖြစ်ပြီးအောက်ပါအတိုင်းထည့်ဝင်ထားပါ သည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ငွေပမာဏ | ၁.၀၄၅ |
| (ခ) | စက်ပစ္စည်း(ပြည်ပဝယ်) | ၄၇၄.၁၀၀ (အမေရိကန်ဒေါ်လာ ၀.၃၉၅ သန်း အပါ အဝင်) |
| (ဂ) | စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၄၅.၀၈၈ |
| (ဃ) | အဆောက်အဦနှင့် မြေ | ၃၀၀.၀၀၀ |
| (င) | ပရိဘောဂနှင့် လုပ်ငန်းသုံး ပစ္စည်းများ | ၄.၂၅၀ |
| | **စုစုပေါင်း** | ၈၂၄.၃၈၃ |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၂၀၀ ဖြင့် ဖော်ပြထားပါသည်။

၅။ လုပ်ငန်းဆောင်ရွက်ရန် စုစုပေါင်းဝန်ထမ်းဦးရေ (၁၄၆) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၁၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)ရှိ ပြည်ပထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/ Ton) |
|---|---|---|---|
| (က) | White Whole 240 | ၃၈ | ၂၂.၀၀ |
| (ခ) | White Whole 320 | ၄၃ | ၂၁.၅၀ |
| (ဂ) | White Whole 450 | ၃၈ | ၂၀.၈၀ |
| (ဃ) | White Split | ၃၈ | ၁၇.၈၀ |
| (င) | Large White Piece | ၁၉ | ၁၆.၈၀ |
| (စ) | Whole Cashew With Skin | ၁၃ | ၂၂.၀၀ |
| (ဆ) | Roasted Salted Cashew with Skin | ၁၆ | ၂၃.၀၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေ | ကျပ် ၅၀၈၇.၄၀၈ သန်း |
| (ခ) | အသုံးစရိတ် | ကျပ် ၄၇၈၂.၁၆၄ သန်း |
| (ဂ) | အသားတင်အမြတ် | ကျပ် ၃၀၅.၂၄၄ သန်း |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေ အနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၁၀၁.၇၅ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ

၇ နှစ် နှင့် ၁လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) မှာ ၂၃.၅၂% ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့** မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ - က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှအဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရေးအတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်။ **(နောက်ဆက်တွဲ-ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ ၏(၁%) သုံးစွဲရန်၊ ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်ရယူရန်၊ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာန၏ ထုတ်ကုန်/သွင်းကုန် မှတ်ပုံတင်လက်မှတ်ရယူရန် သဘောထား မှတ်ချက် ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-ဂ)**

၁၀။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ရေဝတီဘဏ်တွင် ဒေါ်နှင်းဆေစိုး (ဒါရိုက်တာ) အမည်ဖြင့် (၁၁-၅-၂၀၁၇) ရက်နေ့တွင် ကျပ် ၂၀,၀၆၈,၀၈၅.၂၄ ရှိကြောင်း နှင့် MOA AOA မူကြမ်း၊ ကုမ္ပဏီမှတ်ပုံတင် အထောက်အထားများ၊ ပုံစံ-၆၊ ပုံစံ-၂၆ နှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၁။ Golden Cashew Company Limited ၏ မီးသေးကြိုတင်ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် လုပ်ငန်းသဘောသဘာဝ ရှင်းလင်းချက်၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ် အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ (က) မြေပိုင်ရှင် ဒါရိုက်တာ ဦးအိစိန်(ခ) စိုးမောင် နှင့် ဒေါ်ကျင်စန်းတို့က ပိုင်ဆိုင်သည့် အထောက်အထားကိုလည်း တင်ပြထားပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း) အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်းစိစစ်ပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းများသည် ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ (၁၆-၁၁-၂၀၁၆)အရ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ကို ၂၁-၁၂-၂၀၁၆ ရက်စွဲဖြင့် တင်ပြခဲ့ပြီး ၎င်းဥပဒေအရ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့် ခံစားခွင့်ပြုရန် တင်ပြ ထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Golden Cashew Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်း ရပ်ကွက်အပိုင်း-၅၊ မြေကွက်အမှတ်-(၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆) အတွင်းရှိ မြေဧရိယာ(၁.၃၃၀)ဧကကို ငှားရမ်း၍ သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Golden Cashew Company Limited | (၁) ဦးအီစိန်(ခ) ဦးစိုးမောင်<br>မန်နေးဂျင်းဒါရိုက်တာ<br>၆/မအရ(နိုင်) ၀၄၀၄၇၀ | အမှတ်-၈၁၊ မြေညီထပ်၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၂) ဒေါ်ကျင်စန်း<br>ဒါရိုက်တာ<br>၆/မအရ(နိုင်) ၀၄၁၁၆၄ | အမှတ်-၈၁၊ မြေညီထပ်၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃) ဒေါ်နှင်းဝေစိုး<br>ဒါရိုက်တာ<br>၆/မအရ(နိုင်) ၀၉၃၁၉၇ | အမှတ်-၈၁၊ မြေညီထပ်၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၄) ဦးမောင်မြတ်စိုး<br>ဒါရိုက်တာ<br>၆/မအရ(နိုင်) ၀၈၃၀၂၈ | အမှတ်-၈၁၊ မြေညီထပ်၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - (၀၉-၅၁၀၉၁၉၃)

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၈၁၊ မြေညီထပ်၊ (၁၁) လမ်း၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်နှင်းဝေစိုး(ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - သီဟိုဠ်စေ့များ အရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် -

နောက်ဆက်တွဲ-က

MIC 1 ပ၆၇ / ၃၃/၃

(တိုင်းဒေသကြီးအစိုးရအဖွဲ့ ★ စာအမှတ်...၆၉၃ ★ ရက်စွဲ...၂၁/၂/၁၇ ★ ရန်ကုန်တိုင်းဒေသကြီး)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈. ၂. ၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၂ / မ-၂၄၈/၂၀၁၇(၁၅၆)

၁။ Golden Cashew Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(အပိုင်း-၅)၊ မြေကွက်အမှတ်(၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆)အတွင်းရှိ မြေဧရိယာ (၀. ၃၃၀)ဧကကို ငှားရမ်း၍ သီဟိုဠ်စေ့များ အရောင်နှင့်အရွယ်အစားခွဲခြား၍ ထုတ်ပိုးခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၁၆. ၂. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၈၆)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(လက်မှတ်)

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး

ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

Golden Cashew Company Limited

လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/6.(9)

MIC 171
15/2



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၇၇/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Golden Cashew Company Limited မှ သီဟိုဠ်စေ့များ အရောင်နှင့်အရွယ် အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက- ၂/ မ-၂၄၈/ ၂၀၁၇(၁၅၅)

၁။ Golden Cashew Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်- အပိုင်း ၅၊ မြေကွက်အမှတ်- ၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆၊ အတွင်းရှိ မြေဧရိယာ ၀.၃၃၀ ဧက ကို ငှားရမ်း၍ သီဟိုဠ်စေ့များအရောင်နှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအားစိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာအနည်းဆုံးနှစ် (၂၀) ဆောင်ရွက်မည်ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင်း သီဟိုဠ်စေ့တန် (၈၀၀) ကျော်မှ (၁၀) နှစ်အတွင်း တန် (၁၀၀၀) ကျော်အထိ တိုးမြှင့်ထုတ်လုပ်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုလုပ်ငန်းစဉ်တွင် ကုန်းကြမ်းဝယ်ခြင်း၊ နေဖြင့်အခြောက်လှမ်းခြင်း၊ ရေနွေးငွေ့ဖြင့်ပေါင်းခံခြင်း၊ အခွံထုတ်ခြင်း၊ ကင်ခြင်း၊ အခွံပါးခွာခြင်း၊ အရောင်နှင့်အရွယ်အစားခွဲခြားခြင်းနှင့် ပါကင်ပိတ်ခြင်း အဆင့် (၇) ဆင့်ပါရှိပြီး အဆင့် (၄) နှင့် (၆) တွင်သာ စွန့်ပစ်ပစ္စည်းထွက်ရှိပြီး အခြားစက်ရုံများသို့ လောင်စာအဖြစ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ် ငွေ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းမှာ ပတ်ဝန်းကျင်ဆူညံမှုနှင့်ရေထု၊ မြေထုညစ်ညမ်းမှုဖြစ်ပေါ်စေနိုင်မည်မဟုတ်ဘဲ စွန့်ပစ်အမှိုက်များကိုစနစ်တကျ

စွန့်ပစ်သွားမည်ဖြစ်ကာ ပြဋ္ဌာန်းထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန်အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Golden Csashew Company Limited မှ သီဟိုဠ်စေ့များအရောင်းနှင့်အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင်ထွက်ရှိသည့် သီဟိုဠ်စေ့အခွံများသည် ပျက်စီးဆွေးမြေ့ရန် အချိန်ကြာမြင့်ပြီး မြေထုညစ်ညမ်းစေခြင်း၊

(ခ) ပါကင်ပိတ်ခြင်း၊ စက္ကူအိတ်ဖြတ်ခြင်း၊ အစေ့လှော်ခြင်း လုပ်ငန်းအဆင့်များတွင်ထွက်ရှိလာမည့် ဖြတ်စ၊ ညှပ်စ၊ အမှုန်အမွှားနှင့်အနံ့များကြောင့် လေထုနှင့် မြေထုညစ်ညမ်းခြင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများစီမံခန့်ခွဲမှုစနစ်တကျမရှိခြင်းတို့ကြောင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်မည်ဖြစ်ပြီး အဆိုပါအဆောက်အဦ တည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများ အသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အား ညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Golden Csashew Company Limited မှ သီဟိုဠ်စေ့များအရောင်းနှင့် အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်များရေးဆွဲ၍ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဂ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်

ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင် ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂)၂၀၁၆-၂၀၁၇(၃၁၁၀)
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၂/မ-၂၄၈/၂၀၁၇(၁၅၇)

၁။ Golden Cashew Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(အပိုင်း-၅)၊ မြေကွက်အမှတ်(၄၃၃၊ ၄၃၄၊ ၄၃၅၊ ၄၃၆) တွင် သီဟိုဠ်စေ့များ အရောင်နှင့်အရွယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) အကြီးစားစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိပါသည်။ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ပြောင်းလဲလုပ်ကိုင်ခြင်းအား တည်ဆဲဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(ဃ) ကျန်းမာရေးနှင့် အားကစားဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ထောက်ခံချက်လိုအပ်ပါသည်။

(င) စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန၊ ကုန်သွယ်ရေးဦးစီးဌာန၏ ထုတ်ကုန်/သွင်းကုန် မှတ်ပုံတင်လက်မှတ် လိုအပ်ပါသည်။

(စ) Value Added တန်ဖိုးမြင့်ကုန်ထုတ်လုပ်ငန်းလုပ်ကိုင်ခြင်းနှင့် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိလာနိုင်ပါသည်။

၃။ သို့ပါ၍ Golden Cashew Company Limited မှ သီဟိုဠ်စေ့များ အရောင်းနှင့်အရှယ်အစားခွဲခြား၍ ထုပ်ပိုးခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် စပ်လျဉ်း၍ အထက်ဖော်ပြပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၃.၂.၂၀၁၇

ပြည်ထောင်စုဝန်ကြီး ( ကိုယ်စား )

( သန်းသန်းလွင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို

- စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
- ရုံးလက်ခံ